

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်



ခွင့်ပြုမိန့် အမှတ်၊ မနသ-၁၂၁၀ / ၂၀၁၆ ။ ၂၀၁၆ ခုနှစ်၊ စက်တင်ဘာလ ၁၉ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ (ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဒေါ်မီမီစမ်း

(ခ) **အဘ အမည်** ဦးကြံ့ဖွံ့ဖြိုးဖောင်(ခ) ဦး သန်းစိန်

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်** ၁၃/လရန(နိုင်) ၀၈၈၉၅၁

(ဃ) **နေရပ်လိပ်စာ** အမှတ်(၁၄/စီ)၊ အင်းယားလမ်း၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့

(င) **ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း** Asia General Transformer Company Limited [အာရှအထွေထွေ ထရန်စဖော်မာကုမ္ပဏီ လီမိတက်]

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်လုပ်ငန်းအမျိုးအစား** နိုင်ငံတကာအဆင့်မီ ထရန်စဖော်မာ အမျိုးမျိုး ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ရွှေသံလွင်စက်မှုဇုန်၊ မြေတိုင်းရပ်ကွက် အမှတ်-၁၄၊ မြေကွက်အမှတ်-၁၊ ၂၊ ၃၊ ၄၊ ၃၃၊ ၃၄၊ ၃၅ ရှိ မြေဧရိယာ ၁၃.၃၁၆ ဧက

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ကျပ် ၁၄၅၀၇.၁၀ သန်း (US$ ၁၁.၉၇ သန်း အပါအဝင် ကျပ် တစ်သောင်းလေးထောင့်ငါးရာခုနှစ်သန်း တစ်သိန်း တိတိ)

(ဈ) **တည်ဆောက်မှုကာလ** ၁ နှစ်

19.9.16

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

ကန့်သတ်

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

အမိန့်ကြော်ငြာစာအမှတ်၊ ၁၀၄ / ၂၀၁၆(မနသ)

၂၀၁၆ ခုနှစ် စက်တင်ဘာလ ၂၉ ရက်

၁။ မြန်မာကုမ္ပဏီဖြစ်သော အာရှအထွေထွေ ထရန်စဖော်မာ ကုမ္ပဏီလီမိတက် (Asia General Transformer Company Limited) သည် မြေကွက်အမှတ်-၁၊ ၂၊ ၃၊ ၄၊ ၃၃၊ ၃၄၊ ၃၅၊ မြေတိုင်းရပ်ကွက်အမှတ်-၁၄၊ ရွှေသံလွင်စက်မှုဇုန်၊ လှိုင်သာယာ မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၁၃.၃၁၆ ဧက (၅၃၈၈၇.၉၈၈ စတုရန်းမီတာ)တွင် နိုင်ငံတကာအဆင့်မီ ထရန်စဖော်မာ အမျိုးမျိုး ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား ၂၀၁၆ ခုနှစ် စက်တင်ဘာလ ၉ ရက်နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၇/၂၀၁၆) အစည်းအဝေး၌ တင်ပြခဲ့ရာခွင့်ပြု ကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂(ခ)အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် အာရှအထွေထွေ ထရန်စဖော်မာ ကုမ္ပဏီလီမိတက် (Asia General Transformer Company Limited) အား နိုင်ငံတကာအဆင့်မီ ထရန်စဖော်မာ အမျိုးမျိုး ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ-၁၂၁၀/ ၂၀၁၆ ကို ထုတ်ပေး လိုက်သည်။

၂။ အာရှအထွေထွေထရန်စဖော်မာ ကုမ္ပဏီလီမိတက် (Asia General Transformer Company Limited) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာ နိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း (၁၁)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် အောက်ဖော် ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က)အရ ထုတ်လုပ်မှု လုပ်ငန်း စီးပွားဖြစ် စတင်သော နှစ်အပါအဝင် တစ်ဆက်တည်း(၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ) အရ လုပ်ငန်းမှ ရရှိသောအမြတ်ငွေကို သီးသန့်ရန်ပုံငွေထား၍ တစ်နှစ်အတွင်းလုပ်ငန်း၌ ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံသည့်အခါ လုပ်ငန်းအမှန် တကယ် အကောင်အထည်ဖော်မှုအခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(ဃ) အရ လုပ်ငန်းက ထုတ်လုပ်သည့်ပစ္စည်းကို ပြည်ပသို့ တင်ပို့ ရောင်းချလျှင် ထိုသို့တင်ပို့ရောင်းချ၍ရရှိသော အမြတ်ငွေပေါ်တွင် ၅၀ ရာခိုင်နှုန်း အထိ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် (၅)နှစ်

ကန့်သတ်

ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ်အကောင်အထည်ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၂၀(စ)အရ ဝင်ငွေခွန်ကင်းလွတ်ခွင့်ခံစားပြီး တစ်ဆက်တည်း နှစ်နှစ်အတွင်း အမှန်တကယ် ပေါ်ပေါက်သည့် အရှုံးငွေကို ယင်းသို့ အရှုံးပေါ်ပေါက်သည့်နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှုအခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၂၀(ဆ)အရ လုပ်ငန်းစတင်တည်ဆောက်မှုကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာအစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြား ပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ၂၀(ဇ)အရ ဝင်ငွေခွန်စည်းကြပ်ရန်အလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်း ကိရိယာ၊ အဆောက်အဦ သို့မဟုတ် လုပ်ငန်းသုံးအခြားမတည်ပစ္စည်းများ အပေါ်တွင် နိုင်ငံတော်ကသတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုးလျော့တွက်နှုန်းများအတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုးလျော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဆ) ဥပဒေပုဒ်မ၂၀(ဈ)အရ လုပ်ငန်းတည်ဆောက်မှု ပြီးစီး၍ ပထမသုံးနှစ်အတွက် ကုန်ထုတ်လုပ်ရန် တင်သွင်းသည့် ကုန်ကြမ်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြား ပြည်တွင်း အခွန်အကောက်များ ဖြစ်စေ၊ နှစ်မျိုးလုံးကိုဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဇ) ဥပဒေပုဒ်မ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှုပမာဏ တိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်းကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင်တန်ဆာပလာများ၊ စက်ကိရိယာအစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဈ) ဥပဒေပုဒ်မ၂၀(ဋ)အရ ပြည်ပသို့တင်ပို့ရန် ထုတ်လုပ်သည့် ပစ္စည်းများအပေါ် ကုန်သွယ်လုပ်ငန်းခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ၂၀(ဆ)အရ ပြည်ပမှ တင်သွင်းသည့် ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်

အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့်ပစ္စည်း အမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ် ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency)၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ အာရှအထွေထွေထရန်စဖော်မာ ကုမ္ပဏီလီမိတက် (Asia General Transformer Company Limited) သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် **ထုတ်လုပ်မှု ရည်မှန်းချက်များကို အနိမ့်ဆုံးရည်မှန်းချက်များ** အဖြစ် ထားရှိ ဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၅။ အာရှအထွေထွေထရန်စဖော်မာ ကုမ္ပဏီလီမိတက် (Asia General Transformer Company Limited) သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၆။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေနှင့် အဆောက်အဦ အငှားချထားသူ Asia General Electric Holding Co., Ltd. နှင့် အငှားချထားခြင်းခံရသူ အာရှအထွေထွေထရန်စဖော်မာ ကုမ္ပဏီလီမိတက် (Asia General Transformer Company Limited) တို့ချုပ်ဆိုမည့် မြေနှင့် အဆောက်အဦ ငှားရမ်းခြင်း သဘောတူစာချုပ်ကို လက်မှတ်ရေးထိုး၍ ထိုက်သင့်သော တံဆိပ်ခေါင်းခွန်များ ထမ်းဆောင်ပြီးသည့်အခါ ယင်းသဘောတူစာချုပ် မိတ္တူ(၅)စောင်ကို ဤကော်မရှင်သို့ မပျက်မကွက်ပေးပို့ တင်ပြရမည်။

၇။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းချက်များကို တိကျစွာလိုက်နာ ဆောင်ရွက်ရမည်။

၈။ အာရှအထွေထွေ ထရန်စဖော်မာ ကုမ္ပဏီလီမိတက် (Asia General Transformer Company Limited) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရေးတို့အတွက် ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP)၊ ကနဦးပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Environmental Examination-IEE)ကို ပြုလုပ်ဆောင်ရွက်ပြီး ယင်းဆောင်ရွက်ပြီးစီးမှု အခြေအနေကို ကော်မရှင်နှင့် သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနတို့သို့ ပေးပို့အစီရင်ခံရမည်။

၉။ အာရှအထွေထွေထရန်စဖော်မာ ကုမ္ပဏီလီမိတက် (Asia General Transformer Company Limited) သည် အဆိုပြုလုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင်နှင့် အလုပ်သမား ဆက်ဆံရေး ပြေလည်စေရန် အလေးထားဆောင်ရွက်ရမည်။ လုပ်ငန်းခွင်သာယာရေးနှင့် စာရင်း

ဇယားများ စနစ်တကျရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း စီစဉ်ဆောင်ရွက်ရမည်။

၁၀။ အာရှအထွေထွေထရန်စဖော်မာ ကုမ္ပဏီလီမိတက် (Asia General Transformer Company Limited) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်းဆောင်ရွက်ရာ၌ မီးဘေးအန္တရာယ် မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့် အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ ညွှန်ကြားချက်များနှင့် အမိန့်များကို တိကျစွာလိုက်နာ ဆောင်ရွက်ရမည်။ထို့ပြင် ရေသိုလှောင်ကန်၊ မီးသတ်ဆေးဘူးများကဲ့သို့ မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်မှု ဆောင်ရွက်ချက်များကို ဆောင်ရွက်ရမည်ဖြစ်ပြီး မီးငြိမ်းသတ်ရေး လုပ်ငန်းသုံးပစ္စည်းများကို အသုံးပြုတတ်စေရန် သင်တန်းများပေးရမည်။

၁၁။ ထို့ပြင် ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှုများ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး နိုင်ငံတော်မှ ပြဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးမူဝါဒ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ တိကျစွာ လိုက်နာဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၂။ အာရှအထွေထွေထရန်စဖော်မာ ကုမ္ပဏီလီမိတက် (Asia General Transformer Company Limited) သည် ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေအရ ရန်ကုန်တိုင်းဒေသကြီး စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနတွင် ပုဂ္ဂလိကစက်မှုလုပ်ငန်း မှတ်ပုံတင်ထားရှိ ဆောင်ရွက်ရမည်။

၁၃။ အာရှအထွေထွေထရန်စဖော်မာ ကုမ္ပဏီလီမိတက် (Asia General Transformer Company Limited) သည် ကနဦးလုပ်ငန်းဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (သုံး)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်းအကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၃)လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန်ပေးပို့ အစီရင်ခံရမည်။ အဆိုပြု လုပ်ငန်း၏ စီးပွားဖြစ် စတင် ဆောင်ရွက်သည့်နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်)လ အတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၄။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် နေရပ်ဒေသ လိပ်စာ နှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာ နှင့် တယ်လီဖုန်းနံပါတ်)တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၅။ အာရှအထွေထွေထရန်စဖော်မာ ကုမ္ပဏီလီမိတက် (Asia General Transformer Company Limited) သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များ နှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

၁၆။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ရမည်ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်းမရှိစေရ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပေးထားသော ခွင့်ပြုမိန့်၊ သက်ဆိုင်ရာဌာနများမှ ထုတ်ပေးထားသော လုပ်ငန်းလိုင်စင်များနှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှတင်သွင်းသည့် ပစ္စည်းများကို တစ်ဆင့်လွှဲပြောင်းခြင်း၊ ရောင်းချခြင်းမပြုရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့်၊ လုပ်ငန်းလိုင်စင် တို့ကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် လိုအပ်သလို အရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာအစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၃၂(င)အရ နောင်တွင်မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည်မဟုတ်သော နာမည်ပျက် စီးပွားရေး လုပ်ငန်းစာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၁၇။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့်နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင် ဆောင်ရွက်ခြင်းမပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

၁၉.၉.၁၆

(ကျော်ဝင်း)
ဥက္ကဋ္ဌ

စာအမှတ်၊ မရက-၃ / မ-၁၂၃၆ / ၂၀၁၆ (၁၃၃၉၈)
ရက်စွဲ ၊ ၂၀၁၆ ခုနှစ် စက်တင်ဘာလ ၁၉ ရက်

**ဖြန့်ဝေခြင်း**

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

ပြည်ထဲရေးဝန်ကြီးဌာန

သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန

အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန

စက်မှုဝန်ကြီးဌာန

စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန

စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီးဌာန

ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့လျှပ်စစ်ဓာတ်အားလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အမျိုးသားမှတ်တမ်းများမော်ကွန်းတိုက်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန

အုပ်ချုပ်မှုဒါရိုက်တာ၊ အာရှအထွေထွေ ထရန်စဖော်မာ ကုမ္ပဏီလီမိတက် (Asia General Transformer Company Limited)

ကုမ္ပဏီအမည် ။ အာရှအထွေထွေ ထရန်စဖော်မာ ကုမ္ပဏီလီမိတက်

လုပ်ငန်း ။ နိုင်ငံတကာ အဆင့်မီ ထရန်စဖော်မာအမျိုးမျိုး ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုချက်လက်ခံရရှိခြင်း | ၁-၃-၂၀၁၆ | | |
| ၂ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | ၆-၄-၂၀၁၆ | ၁၉-၈-၂၀၁၆ | |
| | (ခ) သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာန | ၁-၄-၂၀၁၆ | ၂၁-၆-၂၀၁၆ | |
| | (ဂ)စက်မှုဝန်ကြီးဌာန | ၆-၄-၂၀၁၆ | ၄-၅-၂၀၁၆ | |
| | (ဃ) လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာန | ၆-၄-၂၀၁၆ | ၂၂-၄-၂၀၁၆ | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ (၁၀/၂၀၁၆) သို့အစည်းအဝေး တင်ပြခြင်း | ၇-၃-၂၀၁၆ | | |
| ၄ | အဆိုပြုလွှာလက်ခံကြောင်းစာပေးပို့ခြင်း | ၉-၃-၂၀၁၆ | | |
| ၅ | အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်နှင့်အညီ ပြင်ဆင် တင်ပြရန် ကုမ္ပဏီသို့ အကြောင်းကြားခြင်း | ၁၉-၃-၂၀၁၆ | | |
| ၆ | အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်နှင့်အညီ ကုမ္ပဏီမှ ပြင်ဆင်တင်ပြခြင်း | ၂၉-၃-၂၀၁၆ | | |
| ၇ | ရက်ပေါင်း(၉၀) ကျော်လွန်မည် ဖြစ်ပါ၍ အဆိုပြုလွှာပြန်လည်ပေးပို့ခြင်း | ၂၇-၅-၂၀၁၆ | | |
| ၈ | ကုမ္ပဏီမှ အဆိုပြုလွှာပြန်လည်တင်ပြခြင်း | ၅-၉-၂၀၁၆ | | |
| | **စုစုပေါင်းကြာမြင့်ရက်** | ၁၈၉ ရက် | | |

ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့၏ သဘောထားမှတ်ချက် ပြန်ကြားလာခြင်း မရှိသေးပါသဖြင့် ရက်ပေါင်း (၉၀) ကျော်လွန်ရခြင်း ဖြစ်ပါသည်။

ကုမ္ပဏီအမည် - အာရှအထွေထွေထရန်စဖော်မာ ကုမ္ပဏီလီမိတက်
(Asia General Transformer Co., Ltd.)
အဖွဲ့အစည်းပုံသဏ္ဌာန် - မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု
လုပ်ငန်းအမျိုးအစား - နိုင်ငံတကာအဆင့်မီ ထရန်စဖော်မာအမျိုးမျိုး ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း
တည်နေရာ - မြေကွက်အမှတ်-၁၊ ၂၊ ၃၊ ၄၊ ၃၃၊ ၃၄၊ ၃၅၊ မြေတိုင်းရပ်ကွက်အမှတ်-၁၄၊ ရွှေသံလွင်စက်မှုဇုန်၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး
စုစုပေါင်းရင်းနှီးမြှုပ်နှံမှု - ကျပ် ၁၄၅၀၇.၁၀ သန်း (US$ ၁၁.၉၇ သန်းအပါအဝင်)
အရင်းကြေကာလ - ၆နှစ် ၂လ
IRR - ၁၃.၄၃ %

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံဝန်ထမ်းလစာ | ၃.၀၀ (တစ်နှစ်) | - |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ၀.၆၇ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၃၇၀.၈၀ | |
| ၄ | ဝင်ငွေခွန် | ၂၀၆၅.၂၄ | ၁၁၀၀.၉၃ |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | | ၁၅၈၈၃.၅၂ |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | - | ၈၉၆၁.၉၅ |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | - | တစ်နှစ်ဝင်ငွေကျပ် လေးဆယ့်ရှစ်သိန်းထက်ကျော်ပါကအခွန်ပေးရမည့် ဝန်ထမ်း(၁၆၄)ဦး |
| ၈ | CSR (၂ %) | - | ၂၁၃.၂၇၃ |
| ၉ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ဝန်ထမ်း (၄၃၃) ဦး အလုပ်အကိုင်ရရှိမည်ဖြစ်ပါသည်။ |
| | စုစုပေါင်း | ကျပ် ၂၄၃၉.၀၄ သန်း | ကျပ် ၂၆၁၆၀.၈၄၃ သန်း |
| | Cost : Benefit | ၁:၁၀ | |

အကြောင်းအရာ။ **အာရှအထွေထွေ ထရန်စဖော်မာ ကုမ္ပဏီလီမိတက် (Asia General Transformer Co., Ltd.) မှ နိုင်ငံတကာ အဆင့်မီ ထရန်စဖော်မာအမျိုးမျိုး ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း အား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - အာရှအထွေထွေထရန်စဖော်မာ ကုမ္ပဏီလီမိတက် ဒေါ်မီမီစမ်း (ဘ)ဦးကြုံဖွန်ဖောင်(ခ) သန်းစိန် |
| | အဖွဲ့အစည်းပုံသဏ္ဍာန် | - မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| | လုပ်ငန်းအမျိုးအစား | - နိုင်ငံတကာအဆင့်မီထရန်စဖော်မာ အမျိုးမျိုး ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း |
| ၂။ | တည်နေရာ | - မြေကွက်အမှတ်-၁၊ ၂၊ ၃၊ ၄၊ ၃၃၊ ၃၄၊ ၃၅၊ မြေတိုင်း ရပ်ကွက်အမှတ်-၁၄၊ ရွှေသံလွင်စက်မှုဇုန်၊ လှိုင်သာယာ မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ |
| | မြေပိုင်ရှင် | - Asia General Electric Holding Co., Ltd. |
| | မြေ အကျယ်အဝန်း | - ၆.၈၆၈ ဧက (၂၇၇၉၃.၈၃၅ စတုရန်းမီတာ) |
| | အဆောက်အဦ အကျယ်အဝန်း | - ၆.၄၄၇ ဧက (၂၆၀၉၄.၁၅၃ စတုရန်းမီတာ) |
| | စုစုပေါင်း မြေနှင့် အဆောက်အဦ အကျယ်အဝန်း | - ၁၃.၃၁၆ ဧက (၅၃၈၈၇.၉၈၈ စတုရန်းမီတာ) |
| | အဆောက်အဦ စာရင်း | ၃၅၀ ပေ x ၃၀၀ ပေ တစ်ထပ် အဆောက်အဦ ၁လုံး<br>၃၅၀ ပေ x ၂၈၇ ပေ တစ်ထပ် အဆောက်အဦ ၁လုံး<br>၆၃၀ ပေ x ၈၀ ပေ တစ်ထပ် အဆောက်အဦ ၁လုံး<br>၁၀၀ ပေ x ၆၀ ပေ တစ်ထပ် အဆောက်အဦ ၁လုံး<br>၃၀ ပေ x ၃၀ ပေ နှစ်ထပ် အဆောက်အဦ ၁လုံး<br>၆၀ ပေ x ၄၀ ပေ နှစ်ထပ် အဆောက်အဦ ၁လုံး<br>၁၂၀ ပေ x ၆၀ ပေ နှစ်ထပ် အဆောက်အဦ ၁လုံး<br>၈၅ ပေ x ၆၈ ပေ တစ်ထပ် အဆောက်အဦ ၁လုံး<br>၂၉ ပေ x ၂၂ ပေ တစ်ထပ် အဆောက်အဦ ၁လုံး<br>၁၅ ပေ x ၂၅ ပေ တစ်ထပ် အဆောက်အဦ ၁လုံး<br>၁၀၀ ပေ x ၁၇ ပေ တစ်ထပ် အဆောက်အဦ ၁လုံး |
| ၃။ | နှစ်စဉ်မြေနှင့် အဆောက်အဦငှားရမ်းခ | - ကျပ် ၁၇၄.၇၁ သန်း |
| | မြေငှားရမ်းခ | - ၁ နှစ် ၁ စတုရန်းမီတာလျှင် ၃၀၀၀ ကျပ်နှုန်း |
| | အဆောက်အဦငှားရမ်းခ | - ၁ နှစ် ၁ စတုရန်းမီတာလျှင် ၃၅၀၀ ကျပ်နှုန်း |
| | မြေငှားသက်တမ်း | - ကနဦး ၃၀ နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ် |
| ၄။ | တည်ဆောက်ရေးကာလ | - ၁ နှစ် |
| | ပဏာမစူးစမ်းလေ့လာမှု ပြုလုပ်မည့်ကာလ | - ၃ လ |

| | | |
|---|---|---|
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - ကျပ် ၁၄၅၀၇.၁၀ သန်း (U S $ ၁၁.၉၇ သန်း အပါအဝင်) |

| **ထည့်ဝင်သည့်အမျိုးအစား** | မြန်မာငွေ (ကျပ်သန်း) | US $ သန်း | စုစုပေါင်း (ကျပ်သန်း) |
|---|---|---|---|
| ငွေသား | ၁၀၀.၀၀ | ၀.၅၀ | ၇၀၀.၀၀ |
| စက်ပစ္စည်း(ပြည်ပ) | - | ၃.၀၉ | ၃၇၁၁.၀၀ |
| တင်သွင်းပြီး စက်ပစ္စည်းတန်ဖိုး | - | ၂.၂၉ | ၂၇၄၄.၄၀ |
| ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်း တန်ဖိုး | ၄၂.၉၉ | - | ၄၂.၉၉ |
| မော်တော်ယာဥ်တန်ဖိုး(ပြည်ပ) | - | ၀.၃၉ | ၄၆၈.၀၀ |
| မော်တော်ယာဥ်တန်ဖိုး(ပြည်တွင်း) | - | ၀.၁၃ | ၁၅၀.၀၀ |
| ကုန်ကြမ်းတန်ဖိုး(Test Run) | - | ၅.၄၄ | ၆၅၃၀.၄၀ |
| Technical License Agreement အတွက် Mitsubishi Electric Corporation သို့ ကနဦးပေးငွေ | - | ၀.၁၃ | ၁၅၉.၃၀ |
| **စုစုပေါင်း** | ၁၄၂.၉၉ | ၁၁.၉၇ | ၁၄၅၀၇.၁၀ |

| | | |
|---|---|---|
| ၆။ | ဝန်ထမ်းအင်အား(ပထမနှစ်) | - ၄၃၇ ဦး |
| | ပြည်တွင်း | ၄၃၃ ဦး (ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၅၀,၀၀၀နှင့် အမြင့်ဆုံးလစာမှာ ကျပ်၇၀၀,၀၀၀ ဖြစ်ပါသည်။) |
| | ပြည်ပ | - ၄ ဦး (ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာUS$ ၉၀၀၀ နှင့် အမြင့်ဆုံးလစာမှာ US$ ၁၉,၀၀၀ ဖြစ်ပါသည်။) |
| ၇။ | ရောင်းချမည့်စနစ် | - ပြည်တွင်းတွင် ၈၀ %နှင့် ပြည်ပသို့ ၂၀% ရောင်းချမည် ဖြစ်ပါသည်။ |
| ၈။ | ကုမ္ပဏီ၏ ဝင်ငွေ (ဆဋ္ဌမနှစ်) | - ကျပ် ၈၉၇၁၉.၁၄ သန်း |
| | ကုမ္ပဏီ၏ အသုံးစရိတ် (ဆဋ္ဌမနှစ်) | - ကျပ် ၈၈၀၆၇.၇၄ သန်း |
| | ကုမ္ပဏီ၏ အသားတင်အမြတ် (ဆဋ္ဌမနှစ်) | - ကျပ် ၁၆၅၁.၄၀ သန်း<br>- အမေရိကန်ဒေါ်လာ ၁ ဒေါ်လာလျှင် မြန်မာငွေ ၁,၂၀၀ ကျပ်နှုန်းဖြင့် တွက်ချက်ထားပါသည်။ |
| ၉။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ် (ဆဋ္ဌမနှစ်) ဝင်ငွေခွန် | - ကျပ် ၅၅၀.၄၇ သန်း |
| | ကုန်သွယ်လုပ်ငန်းခွန် | - ကျပ် ၃၅၈၈.၇၇ သန်း |
| | အရင်းကြေကာလ | - ၆ နှစ် ၂ လ |
| | အရင်းအနှီးအပေါ်အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | - ၁၃.၄၃ % |
| ၁၀။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်) | - ၂,၈၈၀,၀၀၀ kWh |

| | | | | | | |
|---|---|---|---|---|---|---|
| ၁၁။ | ထုတ်လုပ်မှုနှင့်ရောင်းဈေးနှုန်း(၆နှစ်မြောက်) | | | | | |
| | | ထုတ်လုပ်မှု | | | | |
| | | ပြည်တွင်းရောင်း(၈၀%) | | ပြည်ပရောင်း(၂၀%) | | |
| | **ထရန်စဖော်မာအမျိုးအစားများ** | **အရေအတွက် (pcs)** | **ရောင်းဈေးနှုန်း (ကျပ်/ pcs)** | **အရေအတွက် (pcs)** | **ရောင်းဈေးနှုန်း (US$/ pcs)** | |
| | ၁၀၀၀ KVA အထိ | ၆၇၆၀ | ၅,၇၂၁,၇၀၀ | ၁၆၉၀ | ၄၇၆၈.၀၈ | |
| | ၁၀၀၀ KVA မှ ၅၀၀၀ KVA ထိ | ၂၅၂၀ | ၉,၄၇၄,၃၀၀ | ၆၃၀ | ၇၈၉၅.၂၆ | |
| | ၁၀၀၀၀ KVA မှ ၂၅၀၀၀ KVA ထိ | ၁၆၄ | ၃၀,၃၆၀,၂၃၀ | ၄၁ | ၂၅၃၀၀.၀၃ | |
| | ၃၀၀၀၀ KVA မှ ၁၀၀၀၀၀ KVA ထိ | ၆၀ | ၇၀,၇၀၀,၇၅၀ | ၁၅ | ၅၈၉၁၈.၁၃ | |

၁၂။ အခြား

- ငွေကြေးအထောက်အထားအဖြစ် အာရှအထွေထွေထရန် စဖော်မာ ကုမ္ပဏီလီမိတက် သည် ရောဝတီဘဏ်တွင် ၄-၂-၂၀၁၆ ရက်စွဲဖြင့် ကျပ် ၂၀,၀၉၉,၆၂၅ ရှိကြောင်း အထောက်အထားများ တင်ပြထား ပါသည်။
- ဒါရိုက်တာအဖွဲ့ဝင်များ၏ မှတ်ပုံတင်(မိတ္တူ)များ အား တင်ပြထား ပါသည်။
- အာရှအထွေထွေ ထရန်စဖော်မာ ကုမ္ပဏီလီမိတက်သည် ၁၅၃၆/ ၂၀၁၄-၂၀၁၅ (၂၄-၆-၂၀၁၄)ဖြင့် မှတ်ပုံတင်ထားကြောင်း အထောက်အထား၊ သင်းဖွဲ့မှတ်တမ်း၊ သင်းဖွဲ့စည်း မျဉ်း၊ ပုံစံ ၆၊ ၂၆ များ၊ သွင်းကုန်ထုတ်ကုန် လိုင်စင်၊ ကုန်သည်များနှင့် စက်မှုလက်မှု လုပ်ငန်းရှင်များအသင်းချုပ်မှ ထုတ်ပေးသည့် အသင်းဝင်လက်မှတ်တို့ အား တင်ပြထား ပါသည်။
- မြေပိုင်ရှင် Asia General Electric Holding Co., Ltd.သည် မြေပိုင်ရှင်အမည်ပေါက် မရရှိသေးသော်လည်း လျှောက်ထားသည့် အထောက်အထားများ တင်ပြထားပါ သည်။
- အာရှအထွေထွေ ထရန် စဖော်မာ ကုမ္ပဏီလီမိတက် နှင့် မြေပိုင်ရှင် Asia General Electric Holding Co., Ltd. တို့ချုပ်ဆိုမည့် မြေနှင့် အဆောက်အဦ ငှားရမ်းခြင်း စာချုပ်မူကြမ်း၊ မြေပိုင်ဆိုင်မှု အထောက်အထားများ၊ အဆောက်အဦ ဓာတ်ပုံများ၊ မြေငှားရမ်းခြင်း အတွက် Asia General Electric Holding Co., Ltd. မှ ဒါရိုက်တာ အဖွဲ့ဝင်များ၏ သဘောတူညီချက် အစည်းအဝေး မှတ်တမ်း တို့အား တင်ပြ ထားပါသည်။
- မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ် ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထား လာပါသည်။
- ထုတ်လုပ်မည့် ထရန်စဖော်မာ နမူနာဓာတ်ပုံ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဆောင်ရွက်မည့် အစီအစဉ်၊ မီးဘေးကြိုတင်

| | | |
|---|---|---|
| ၁၃ | စိစစ်တင်ပြချက် | - ကာကွယ်ရေး စီမံချက်၊ လုပ်ငန်းခွင် သာယာဝပြောရေး အစီအစဉ်၊ CSR အတွက် အသားတင်အမြတ်မှ ၂% အဖြစ် အာရှအထွေထွေ ထရန်စဖော်မာ ကုမ္ပဏီလီမိတက်မှ ထုတ်လုပ်မည့် ထရန်စဖော်မာများအား ကျေးလက်ဒေသမှ စာသင်ကျောင်းများအား လှူဒါန်းမည်ဖြစ်ကြောင်း တင်ပြထားပါသည်။<br>- အာရှအထွေထွေထရန်စဖော်မာ ကုမ္ပဏီလီမိတက် (Asia General transformer Co., Ltd.) မှ ထရန်စဖော်မာ ထုတ်လုပ် ခြင်း လုပ်ငန်းအတွက် ဂျပန်နိုင်ငံရှိ Mitsubishi Electric Corporation နှင့် Technical License Agreement စာချုပ် ချုပ်ဆိုပြီး Mitsuibishi Electric Corporation ၏ နည်းပညာ များအတိုင်း ထုတ်လုပ် ဆောင်ရွက် သွားမည် ဖြစ်ပါသည်။<br>- နည်းပညာဆိုင်ရာ လိုင်စင်စာချုပ်အရ Mitsubishi Electric Corporationမှ အာရှအထွေထွေထရန်စဖော်မာ ကုမ္ပဏီလီမိတက် (Asia General Transformer Co., Ltd.) မှ ထုတ်လုပ်မည့် ထရန်စဖော်မာများအား အတွင်းပိုင်း၊ အပြင်ပိုင်း တပ်ဆင်ခြင်း၊ စမ်းသပ်ခြင်း၊ နည်းပညာသင်တန်း ပေးခြင်း၊ တိုင်ပင်ဆွေးနွေးခြင်း၊ နည်းပညာစာရွက်စာတမ်းများ ပံ့ပိုး ပေးခြင်း၊ နည်းပညာကျွမ်းကျင်သူများ စေလွှတ်ပေးခြင်း စသည် တို့ ဆောင်ရွက်ပေးမည် ဖြစ်ပါသည်။<br>- အာရှအထွေထွေ ထရန်စဖော်မာ ကုမ္ပဏီလီမိတက်(Asia General Transformer Co., Ltd.)မှ Mitsubishi Electric Corporationသို့ ကနဦး ပေးချေမှုအဖြစ် ဂျပန်ယန်းငွေ ၁၅,၀၀၀,၀၀၀ (အမေရိကန်ဒေါ်လာ ၁၃၂,၇၄၃) ကို အဆိုပြုလုပ်ငန်း၏ မတည်ရင်းနှီး မြှုပ်နှံငွေထဲမှ ပေးရမည် ဖြစ်ကြောင်း၊ Royalty Fee အဖြစ် ရောင်းရသည့် အသားတင် ရောင်းရငွေ ပေါ်တွင် ၃% ပေးရမည်ဖြစ်ကြောင်း ဖော်ပြထား ပါသည်။<br>- ထုတ်လုပ်မည့် ထရန်စဖော်မာများကို ကုမ္ပဏီပိုင် AG အမှတ်တံဆိပ်အား အသုံးပြု မည်ဖြစ်ကြောင်း၊ ထုတ်လုပ်မှု လုပ်ငန်းစဉ် အဆင့်ဆင့်နှင့် ဓာတ်ပုံများအား တင်ပြထားပါသည်။<br>- အာရှအထွေထွေထရန်စဖော်မာ ကုမ္ပဏီလီမိတက်(Asia General Transformer Co., Ltd.) သည် ဗြိတိန်နိုင်ငံရှိ SGS United Kingdom Ltd. မှ ISO 9001: 2008 System Certificate အမှတ်- TH10/4921 (မိတ္တူ)နှင့် ISO 14001: 2004 System Certificate အမှတ်- TH15/8962 (မိတ္တူ)များအား တင်ပြထား ပါသည်။ |

| | | |
|---|---|---|
| | | - အာရှအထွေထွေထရန်စဖော်မာ ကုမ္ပဏီလီမိတက်မှ ထုတ်လုပ် မည့် ထရန်စဖော်မာ များတွင် ထည့်သွင်းမည့် ဆီများမှ ဆီယိုစိမ့်မှု များ ဖြစ်ပွားပါက ဘေးပတ်ဝန်းကျင်သို့ ပျံ့နှံ့ရောက်ရှိမှု မရှိစေရန် ရည်ရွယ်၍ valve များ၊ oil tank body များမှ ဆီယိုစိမ့်မှု ရှိ-မရှိစစ်ဆေးမည် ဖြစ်ကြောင်း၊ ယိုစိမ့်လာသော ဆီများကို ပြန်လည် သန့်စင်ရန် အတွက် purification ဌာနသို့ ပို့မည် ဖြစ်ပြီး သန့်စင်မရတော့ပါက ဆီများကို စနစ်တကျ ထုတ်ယူ၍ re-use ပြုလုပ်ရန် သိုလှောင်ထားမည် ဖြစ်ပါကြောင်း၊ ကန်ကို ရေရှည် အသုံးပြုနိုင်ရန်နှင့် တာရှည်ခံစေရန် ၄ လ တစ်ကြိမ် စစ်ဆေး သွားမည် ဖြစ်ပါကြောင်း တင်ပြထားပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊မရက-၃/မ-၁၂၃၆/၂၀၁၆( ၁၁၇၇ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ် စက်တင်ဘာလ ၅ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့တင်ပြသည့်**

**အမှာစာ**

အကြောင်းအရာ။ **အာရှအထွေထွေထရန်စဖော်မာကုမ္ပဏီလီမိတက်(Asia General Transformer Co., Ltd.)မှ နိုင်ငံတကာအဆင့်မီ ထရန်စဖော်မာ အမျိုးမျိုး ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

၁။ အာရှအထွေထွေ ထရန်စဖော်မာ ကုမ္ပဏီလီမိတက်(Asia General Transformer Co., Ltd.) သည် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာ မြို့နယ်၊ ရွှေသံလွင်စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်-၁၄၊ မြေကွက်အမှတ်-၁၊ ၂၊ ၃၊ ၄၊ ၃၃၊ ၃၄၊ ၃၅ ရှိ မြေဧရိယာ ၁၃.၃၁၆ ဧက (၅၃၈၈၇.၉၈၈ စတုရန်းမီတာ)နှင့် ယင်းမြေပေါ်ရှိ အဆောက်အဦများအား ငှားရမ်း၍ နိုင်ငံတကာအဆင့်မီ ထရန်စဖော်မာ အမျိုးမျိုး ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်မီမီစမ်း (အဘ ဦးကြုံဖွန်ဖေါင်(ခ) သန်းစိန်) မှ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုတင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေပိုင်ရှင် Asia General Electric Holding Co., Ltd. နှင့် အာရှအထွေထွေထရန်စဖော်မာ ကုမ္ပဏီလီမိတက်တို့ ချုပ်ဆိုမည့် မြေနှင့် အဆောက်အဦ ငှားရမ်းခြင်း စာချုပ်(မူကြမ်း)၊ မြေအထောက်အထားနှင့် အဆောက်အဦဓာတ်ပုံ၊ အဆောက်အဦနှင့် စက်ပစ္စည်းLayout Plan၊ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်၊ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း၊ ဒါရိုက်တာအဖွဲ့ဝင်များ၏ နိုင်ငံသားစိစစ်ရေးကတ်(မိတ္တူ)နှင့် ထုတ်လုပ်မည့် Transformer နမူနာဓာတ်ပုံများအား တင်ပြထားပါသည်။

၃။ မြေနှင့် အဆောက်အဦငှားရမ်းသက်တမ်းမှာ ကနဦး ၃၀ နှစ် နှင့် သက်တမ်းတိုး(၁၀)နှစ် ၂ ကြိမ်ဖြစ်ပါသည်။ မြေငှားရမ်းခနှုန်းမှာ တစ်နှစ်လျှင် အဆောက်အဦမပါ မြေလွတ် ၁ စတုရန်းမီတာလျှင် ၃၀၀၀ ကျပ်နှုန်းဖြင့် မြေဧရိယာ ၂၇၇၉၃.၈၃၅ စတုရန်းမီတာ အတွက် ကျပ် ၈၃.၃၈၂ သန်းနှင့် အဆောက်အဦပါ မြေ ၁ စတုရန်းမီတာလျှင် ၃၅၀၀ ကျပ်နှုန်းဖြင့် မြေဧရိယာ ၂၆၀၉၄.၁၅၃ စတုရန်းမီတာအတွက် ကျပ် ၉၁.၃၂၉ သန်း စုစုပေါင်း မြေဧရိယာ ၁၃.၃၁၆ ဧက (၅၃၈၈၇.၉၈၈ စတုရန်းမီတာ) အား တစ်နှစ်လျှင် ကျပ်သန်း ၁၇၄.၇၁ ဖြင့် ငှားရမ်းမည်ဖြစ်ကြောင်း တင်ပြထား ပါသည်။

၄။ လုပ်ငန်းဆောင်ရွက်မှု သက်တမ်းမှာ ကနဦး ၃၀ နှစ်နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၁ နှစ် ကြာမြင့်မည်ဖြစ်ကြောင်းနှင့် ပဏာမစူးစမ်း လေ့လာမှု ပြုလုပ်မည့် ကာလအနေဖြင့် ၃ လ လိုအပ်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ မတည်ငွေရင်းပမာဏမှာ ကျပ် ၁၄၅၀၇.၁၀ သန်း (US $ ၁၁.၉၇သန်း အပါအဝင်) ဖြစ်ပြီး အဆိုပြုလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု အခြေအနေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| ထည့်ဝင်သည့်အမျိုးအစား | ကျပ်(သန်း) | US $ (သန်း) | စုစုပေါင်း (ကျပ်သန်း) |
|---|---|---|---|
| ငွေသား | ၁၀၀.၀၀ | ၀.၅၀ | ၇၀၀.၀၀ |
| စက်ပစ္စည်းတန်ဖိုး | - | ၃.၀၉ | ၃၇၁၁.၀၀ |
| တင်သွင်းပြီးစက်ပစ္စည်းတန်ဖိုး | - | ၂.၂၉ | ၂၇၄၄.၄၀ |
| ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်းတန်ဖိုး | ၄၂.၉၉ | | ၄၂.၉၉ |
| မော်တော်ယာဥ်တန်ဖိုး(ပြည်ပ) | - | ၀.၃၉ | ၄၆၈.၀၀ |
| မော်တော်ယာဥ်တန်ဖိုး(ပြည်တွင်း) | - | ၀.၁၃ | ၁၅၀.၀၀ |
| စမ်းသပ်ရန်ကုန်ကြမ်းတန်ဖိုး | - | ၅.၄၄ | ၆၅၃၁.၄၁ |
| Technical License Agreement အတွက် Mitsubishi Electric Corporation သို့ ကနဦးပေးငွေ | - | ၀.၁၃ | ၁၅၉.၃၀ |
| **စုစုပေါင်း** | ၁၄၂.၉၉ | ၁၁.၉၇ | ၁၄၅၀၇.၁၀ |

၆။ လုပ်ငန်း ဆောင်ရွက်ရန်အတွက် ပထမနှစ်တွင် ပြည်တွင်းမှ ဝန်ထမ်း(၄၃၃)ဦးနှင့် ပြည်ပမှ ဝန်ထမ်း(၄)ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၅၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၇၀၀,၀၀၀ ဖြစ်ပြီး ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ US $ ၉၀၀၀ နှင့် အမြင့်ဆုံးလစာမှာ US $ ၁၉,၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိသော ထရန်စဖော်မာများကို ပြည်တွင်းတွင် ၈၀% နှင့် ပြည်ပသို့ ၂၀%ရောင်းချမည် ဖြစ်ပါသည်။ ပုံမှန်နှစ် (၆-နှစ်မြောက်)တွင် ထုတ်လုပ်မှုနှင့် ရောင်းချမည့်ဈေးနှုန်းများမှာ အောက်ပါ အတိုင်းဖြစ်ပါသည် -

| အမျိုးအစား | ထုတ်လုပ်မှု | | | |
|---|---|---|---|---|
| | ပြည်တွင်းရောင်း(၈၀%) | | ပြည်ပရောင်း(၂၀%) | |
| | အရေအတွက် (pcs) | ရောင်းဈေးနှုန်း (ကျပ်/ pcs) | အရေအတွက် (pcs) | ရောင်းဈေးနှုန်း (US$/ pcs) |
| Transformer up to 1000 KVA | ၆၇၆၀ | ၅,၇၂၀,၇၀၁ | ၁၆၉၀ | ၄၇၆၈.၀၈ |
| Transformer 1000-5000 KVA | ၂၅၂၀ | ၉,၄၇၄,၃၀၁ | ၆၃၀ | ၇၈၉၅.၂၆ |
| Transformer10000-25000 KVA | ၁၆၄ | ၃၀,၃၆၁,၂၃၁ | ၄၁ | ၂၅၃၀၁.၀၃ |
| Transformer30000-100000 KVA | ၆၀ | ၇၀,၇၀၁,၇၅၀ | ၁၅ | ၅၈၉၁၈.၁၃ |

၈။ လုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် ကုမ္ပဏီမှ ပုံမှန်နှစ် (၆နှစ်မြောက်)တွင် ရရှိမည့်ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပြီး အမေရိကန်ဒေါ်လာ တစ်ဒေါ်လာလျှင် ၁,၂၀၀ ကျပ်နှုန်းဖြင့် တွက်ချက်ထားပါသည်-

| စဉ် | | ကျပ် (သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၈၉၇၁၉.၁၄ |
| (ခ) | အသုံးစရိတ် | ၈၈၀၆၇.၇၄ |
| (ဂ) | အသားတင် အမြတ် | ၁၆၅၁.၄၀ |

၉။ နိုင်ငံတော်မှ ပုံမှန်နှစ် (၆ နှစ်မြောက်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် ၅၅၀.၄၇ သန်းနှင့် ကုန်သွယ်လုပ်ငန်းခွန် ကျပ် ၃၅၈၈.၇၇ သန်း ရရှိမည်ဖြစ်ပါသည်။ အဆိုပြု လုပ်ငန်း၏ အရင်းကြေ ကာလမှာ ၆ နှစ် ၂ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR)မှာ ၁၃.၄၃%ဖြစ်ပါသည်။

၁၀။ အဆိုပြုချက်နှင့်စပ်လျဉ်း၍ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၊ သယံဇာတနှင့် သဘာဝ ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဝန်ကြီးဌာန၊ လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာနနှင့် စက်မှုဝန်ကြီးဌာနများ သို့ သဘောထားတောင်းခံခဲ့ရာ အောက်ပါအတိုင်း သဘောထားပြန်ကြားလာပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့**မှ ကုန်ကြမ်း ၁၀၀% တင်သွင်းမှုကို နိုင်ငံခြား ငွေဖြင့် ဝယ်ယူရမည် ဖြစ်ပြီး၊ ကုန်ချောအချို့ (အနည်းငယ်) ကိုသာ ပြည်ပသို့ တင်ပို့ရန် ရည်ရွယ် ထားပါသည်။ ထို့ကြောင့် ပြန်လည်သုံးသပ်သင့်ပါကြောင်း သဘောထား ပြန်ကြားထား ပါသည်။ **နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း (၄)၊ အခြေခံမူတွင် သွင်းကုန် အစားထိုးပစ္စည်းများ ထုတ်လုပ်သည့် လုပ်ငန်းများကို အခြေခံပြီး ခွင့်ပြုရမည်ဟု ဖော်ပြထားပါသည်။**

**နောက်ဆက်တွဲ(က)**

(ခ) **သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး ဝန်ကြီးဌာန**မှ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန်ကိစ္စနှင့်ပတ်သက်၍ အောက်ဖော်ပြပါအချက်များအတိုင်းလိုက်နာ ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါ သည်-

(၁) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်း ကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံ ဆောင်ရွက်မှု (Corporate Social Responsibility-CSR)အတွက် အသားတင်အမြတ်ငွေ၏

(၂%)အား အသုံးပြုခြင်း အပါအဝင်ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်။

(၂) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးတို့အတွက် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination-IEE)ကို ဆောင်ရွက်ပြီး ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့် အညီ အစီရင်ခံ တင်ပြရန်နှင့် ဝန်ကြီးဌာနမှ လိုအပ်ပါက ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)ကို ဆက်လက်ဆောင်ရွက်ရန်။

(၃) အထက်ပါလေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့်လုပ်ငန်း ဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှုလျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေစသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP) အား ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့် အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(၄) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း များ၊ ညွှန်ကြားချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်။ **ကုမ္ပဏီမှ တတိယအဖွဲ့အစည်းဖြစ်သည့် A.M.K and Associates (E.I.A Consulting) သို့ အပ်နှံ၍ IEE, EIAနှင့် EMP အစီရင်ခံစာများအား ရေးဆွဲ၍ တင်ပြမည်ဖြစ်ပါကြောင်း ကတိဝန်ခံချက်ပေးပို့ထားပါသည်။** **နောက်ဆက်တွဲ (ခ)**

(ဂ) **စက်မှုဝန်ကြီးဌာနမှ** အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းနှင့် ပတ်သက်၍ ကန့်ကွက်ရန်မရှိကြောင်း သဘောထားမှတ်ချက်ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ(ဂ)**

(ဃ) **လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာနမှ** အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းနှင့် ပတ်သက်၍ သဘောထား မှတ်ချက် ပေးရန်မရှိကြောင်း ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ(ဃ)**

၁၁။ အာရှအထွေထွေ ထရန်စဖော်မာ ကုမ္ပဏီလီမိတက်မှ ငွေကြေးအထောက်အထားအဖြစ် ရောဝတီဘဏ်တွင် ၄-၂-၂၀၁၆ ရက်စွဲဖြင့် ကျပ် ၂၀၀၉၉,၆၂၅ ရှိကြောင်း အထောက်အထားများ၊ ၂၀၁၄ ခုနှစ် ဇွန်လ ၂၄ ရက် နေ့စွဲဖြင့် ကုမ္ပဏီမှတ်ပုံတင်အမှတ် ၁၅၃၆/၂၀၁၄-၂၀၁၅ ဖြင့် မှတ်ပုံတင်(မိတ္တူ)နှင့် စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာနမှ အမှတ်-၃၄၃၁၆ (၁၅-၈-၂၀၁၄)ဖြင့် ထုတ်ပေးထားသည့် ငါးနှစ်သက်တမ်းရှိ ပို့ကုန်သွင်းကုန်လိုင်စင် (မိတ္တူ)တို့အား တင်ပြ ထားပါသည်။

၁၂။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများဖြင့်သာ ဖွဲ့စည်းတည်ထောင်ထားသော ကုမ္ပဏီ ဖြစ်ပြီး နိုင်ငံခြားမှ မည်သူမှ ပိုင်ဆိုင်မှုမရှိကြောင်း၊ လုပ်ငန်းအသစ်ဖြစ်ကြောင်း၊ နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းထားသည့် စည်းကမ်းချက်များ၊ ညွှန်ကြားချက်များနှင့်အညီ လိုက်နာဆောင်ရွက်မည် ဖြစ်ပါကြောင်းနှင့် မီးဘေးကြိုတင်ကာကွယ်မှုအစီအမံများကို ရေးဆွဲတင်ပြ ထားပါသည်။ ထို့အပြင် ပတ်ဝန်းကျင် သန့်ရှင်းမှုအတွက် Environmental Management System (EMS) ကို ပြုစုတင်ပြထားပြီး ဝန်ထမ်းသက်သာချောင်ချိရေး အစီအစဉ်နှင့် တစ်နှစ်လျှင် လစာဝင်ငွေ ကျပ်သိန်း (၄၈)နှင့် အထက်ရရှိသော ဝန်ထမ်းများအတွက် ဝင်ငွေခွန် ပေးဆောင်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၃။ လုပ်ငန်းဆောင်ရွက်ရာတွင် လျှပ်စစ်ဓါတ်အားကို မဟာဓာတ်အားလိုင်းမှ အဓိက ရယူ သုံးစွဲမည်ဖြစ်ကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၁၄။ အာရှအထွေထွေ ထရန်စဖော်မာ ကုမ္ပဏီလီမိတက်(Asia General Transformer Co., Ltd.) မှ ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာ ထိခိုက်မှုအနည်းဆုံး ဖြစ်စေမည့် လုပ်ငန်းအစီအစဉ်များ စောင့်ကြည့်လေ့လာမည့် လုပ်ငန်းများအတွက် ကျန်းမာရေး၊ လူမှုရေးစသည့် ကိစ္စရပ်များတွင် သုံးစွဲ နိုင်ရန်အတွက် နှစ်စဉ် အသားတင်အမြတ်ငွေ၏ ၂% ကို Corporate Social Responsibility အဖြစ် အသုံးပြုမည်ဖြစ်ကြောင်းနှင့် ထုတ်လုပ်မည့် ထရန်စဖော်မာများအား ကျေးလက်ဒေသနှင့် စာသင်ကျောင်းများသို့ လှူဒါန်းသွားမည် ဖြစ်ပါကြောင်း တင်ပြထားပါသည်။

၁၅။ အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၂၀၁၆ ခုနှစ် မတ်လ ၇ ရက်နေ့တွင် ကျင်းပသော (၁၀/၂၀၁၆) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၁၆။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း(၁၁)၊ ပုဒ်မ ၂၀(က၊ ဂ၊ ဃ၊ စ၊ ဆ၊ ဇ၊ ဈ၊ ည၊ ဋ) အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို တင်ပြလျှောက်ထားလျှင် ခွင့်ပြုနိုင်မည်ဖြစ်ပါမည်။

စိစစ်တင်ပြချက်

၁၇။ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) အာရှအထွေထွေထရန်စဖော်မာ ကုမ္ပဏီလီမိတက် (Asia General transformer Co., Ltd.) မှ ထရန်စဖော်မာထုတ်လုပ်ခြင်းလုပ်ငန်းအတွက် ဂျပန်နိုင်ငံရှိ Mitsubishi Electric Corporation နှင့် Technical License Agreement စာချုပ် ချုပ်ဆိုပြီး Mitsuibishi Electric Corporation ၏ နည်းပညာများအတိုင်း ထုတ်လုပ်ဆောင်ရွက်သွားမည် ဖြစ်ပါသည်။

(ခ) နည်းပညာဆိုင်ရာ လိုင်စင်စာချုပ်အရ Mitsubishi Electric Corporationမှ အာရှအထွေထွေထရန်စဖော်မာ ကုမ္ပဏီလီမိတက် (Asia General Transformer Co., Ltd.) မှ ထုတ်လုပ်မည့် ထရန်စဖော်မာများအား အတွင်းပိုင်း၊ အပြင်ပိုင်း တပ်ဆင်ခြင်း၊ စမ်းသပ်ခြင်း၊ နည်းပညာသင်တန်း ပေးခြင်း၊ တိုင်ပင်ဆွေးနွေးခြင်း၊ နည်းပညာစာရွက်စာတမ်းများ ပံ့ပိုးပေးခြင်း၊ နည်းပညာကျွမ်းကျင်သူများ စေလွှတ်ပေးခြင်း စသည်တို့ ဆောင်ရွက်ပေးမည် ဖြစ်ပါသည်။

(ဂ) အာရှအထွေထွေ ထရန်စဖော်မာ ကုမ္ပဏီလီမိတက်(Asia General Transformer Co., Ltd.)မှ Mitsubishi Electric Corporationသို့ ကနဦး ပေးချေမှုအဖြစ် ဂျပန်ယန်းငွေ ၁၅,၀၀၀,၀၀၀ (အမေရိကန်ဒေါ်လာ ၁၃၂,၇၄၃) ကို အဆိုပြုလုပ်ငန်း၏ မတည် ရင်းနှီးမြှုပ်နှံငွေထဲမှ ပေးရမည်ဖြစ်ကြောင်း၊ Royalty Fee အဖြစ် ရောင်းရသည့် အသားတင် ရောင်းရငွေ ပေါ်တွင် ၃% ပေးရမည်ဖြစ်ကြောင်း ဖော်ပြထားပါသည်။

(ဃ) ထုတ်လုပ်မည့် ထရန်စဖော်မာများကို ကုမ္ပဏီပိုင် AG အမှတ် တံဆိပ်အား အသုံးပြုမည်ဖြစ်ကြောင်း၊ ထုတ်လုပ်မှု လုပ်ငန်းစဉ် အဆင့်ဆင့်နှင့် ဓာတ်ပုံများအား တင်ပြထားပါသည်။

(င) အာရှအထွေထွေထရန်စဖော်မာ ကုမ္ပလီမိတက်(Asia General Transformer Co., Ltd.) သည် ဗြိတိန်နိုင်ငံရှိ SGS United Kingdom Ltd. မှ ISO 9001: 2008 System Certificate အမှတ်- TH10/4921 (မိတ္တူ)နှင့် ISO 14001: 2004 System Certificate အမှတ်- TH15/8962 (မိတ္တူ)များအား တင်ပြထားပါသည်။

(စ) အာရှအထွေထွေထရန်စဖော်မာ ကုမ္ပဏီလီမိတက်မှ ထုတ်လုပ်မည့် ထရန်စဖော်မာများတွင် ထည့်သွင်းမည့် ဆီများမှ ဆီယိုစိမ့်မှုများ ဖြစ်ပွားပါက ဘေးပတ်ဝန်းကျင်သို့ ပျံ့နှံ့ရောက်ရှိမှု မရှိစေရန် ရည်ရွယ်၍ valve များ၊ oil tank body များမှ ဆီယိုစိမ့်မှု ရှိ-မရှိစစ်ဆေးမည် ဖြစ်ကြောင်း၊ ယိုစိမ့်လာသော ဆီများကို ပြန်လည် သန့်စင်ရန်

အတွက် purification ဌာနသို့ ပို့မည်ဖြစ်ပြီး သန့်စင်မရတော့ပါက ဆီများကို စနစ်တကျ ထုတ်ယူ၍ re-use ပြုလုပ်ရန် သိုလှောင်ထားမည် ဖြစ်ပါကြောင်း၊ ကန်ကို ရေရှည် အသုံးပြုနိုင်ရန်နှင့် တာရှည်ခံစေရန် ၄ လ တစ်ကြိမ် စစ်ဆေးသွားမည် ဖြစ်ပါကြောင်း တင်ပြထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၈။ အာရှအထွေထွေ ထရန်စဖော်မာ ကုမ္ပဏီလီမိတက် (Asia General Transformer Co., Ltd.) သည် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာ မြို့နယ်၊ ရွှေသံလွင်စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်-၁၄၊ မြေကွက်အမှတ်-၁၊ ၂၊ ၃၊ ၄၊ ၃၃၊ ၃၄၊ ၃၅ နှင့် ယင်းမြေပေါ်ရှိ အဆောက်အဦများအား ငှားရမ်း၍ နိုင်ငံတကာအဆင့်မီ ထရန်စဖော်မာ အမျိုးမျိုး ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ (ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## တိုင်းဒေသကြီးအစိုးရအဖွဲ့
## ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ (၇) / တိုင်းရင်းသား
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဩဂုတ်လ ၁၉ ရက်

KT-17249
23/8/16

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၆. ၄. ၂၀၁၆)ရက်စွဲပါစာအမှတ်၊ ရက-၃/မ-၁၂၃၆/၂၀၁၆(၅၅၆-က)

၁။ အာရှအထွေထွေထရန်စဖော်မာ ကုမ္ပဏီလီမိတက်သည် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ရွှေသံလွင်စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်-၁၄၊ မြေကွက်အမှတ်-၁၊ ၂၊ ၃၊ ၄၊ ၃၃၊ ၃၄၊ ၃၅ နှင့် ယင်းမြေပေါ်ရှိ အဆောက်အဦများအားငှားရမ်း၍ နိုင်ငံတကာအဆင့်မီ ထရန်စဖော်မာအမျိုးမျိုး ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ ကုန်ကြမ်း ၁၀၀% တင်သွင်းမှုကို နိုင်ငံခြားငွေဖြင့် ဝယ်ယူရမည်ဖြစ်ပြီး၊ ကုန်ချောအချို့ (အနည်းငယ်)ကိုသာ ပြည်ပသို့တင်ပို့ရန် ရည်ရွယ်ထားပါသည်။ ထို့ကြောင့် ပြန်လည်သုံးသပ်သင့်ပါကြောင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်။

ဝန်ကြီးချုပ်(ကိုယ်စား)
(နော်ပန်းသဉ္ဇာမျိုး၊ ပိုင်းဒေသကြီးကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး)

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး
ရန်ကုန်မြောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
အာရှအထွေထွေထရန်စဖော်မာ ကုမ္ပဏီလီမိတက်
လက်ခံစာတွဲ/မျှောစာတွဲ

D/2016/Lesson(MIC).,(20)



M-677
21/4

ရင်းနှီးမြှုပ်နှံမှုဥာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ဝဝ၁/ MIC(OSS) /ဝ၁( ၁၃၉ / ၁၆ )
ရက် စွဲ ၊၂ဝ၁၆ခုနှစ် ဧပြီ လ ၂၁ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့

အကြောင်းအရာ။ **အာရှအထွေထွေထရန်စဖော်မာကုမ္ပဏီလီမိတက်မှ နိုင်ငံတကာအဆင့်မီ ထရန်စဖော်မာအမျိုးမျိုး ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ သဘောထား မှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁-၄-၂ဝ၁၆ ရက်စွဲပါစာအမှတ်၊ ရက-၃/ မ-၁၂၃၆/ ၂ဝ၁၆(၅၂၂-က)

၁။ အာရှအထွေထွေထရန်စဖော်မာကုမ္ပဏီလီမိတက်သည် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ရွှေသံလွင်စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်-၁၄၊ မြေကွက်အမှတ်-၁၊ ၂၊ ၃၊ ၄၊ ၃၃၊ ၃၄၊ ၃၅ နှင့်ယင်းမြေပေါ်ရှိ အဆောက်အဦများအားငှားရမ်း၍ နိုင်ငံတကာအဆင့်မီ ထရန်စဖော်မာအမျိုးမျိုး ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍စိစစ်ပြီး သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ ပူးတွဲပေးပို့လာသော အဆိုပြုလွှာတွင်ရင်းနှီးမြှုပ်နှံမှုကာလမှာကနဦးနှစ်(၃ဝ)နှင့်(၁ဝ) နှစ်သက်တမ်းတိုး(၂)ကြိမ်ဖြစ်ကြောင်း၊ တည်ဆောက်မှုကာလမှာ(၁)နှစ်ဖြစ်ကြောင်း၊ မီးဘေးကာကွယ်မှုအစီအစဉ်၊ ဝန်ထမ်းသက်သာချောင်ချိရေးအစီအစဉ်များကိုထားရှိဆောင်ရွက်သွားမည်ဖြစ်ကြောင်းလုပ်ငန်းမှရရှိလာမည့်အသားတင်အမြတ်ငွေ၏(၂%)ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု(Corporate Social Responsibility - CSR)လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်ပတ်သက်၍ ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပွားစေရန်အတွက် လိုအပ်သောအစီအမံများကြိုတင်ကာကွယ်မှုများ ပြုလုပ်ဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ ထွက်ရှိလာသောအမှိုက်များအား

မြို့တော်စည်ပင်သာယာရေးကော်မတီနှင့်ညှိနှိုင်း၍ စွန့်ပစ်သွားမည်ဖြစ်ကြောင်း၊ စက်ရုံပတ်ဝန်းကျင်တွင် အရိပ်ရသစ်ပင်နှင့်ပန်းပင်များအား စနစ်တကျစိုက်ပျိုးသွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ အာရှအထွေထွေထရန်စဖော်မာ ကုမ္ပဏီလီမိတက်မှ နိုင်ငံတကာအဆင့်မီထရန်စဖော်မာ အမျိုးမျိုးထုတ်လုပ်ခြင်း လုပ်ငန်းများဆောင်ရွက်ခြင်းလုပ်ငန်းများဆောင်ရွက်ရာတွင် လျှပ်စစ်ပစ္စည်းများဖြတ်တောက်ခြင်းပုံသွင်းခြင်း၊ စုပေါင်းတပ်ဆင်ခြင်းများမှထွက်ရှိလာမည့် ပလပ်စတစ်ကုန်ကြမ်းပစ္စည်းများသတ္တုအပိုင်းအစများ၊ ထရန်စဖော်မာဆီများကြောင့် ပတ်ဝန်းကျင်မြေထုညစ်ညမ်းခြင်း၊ တပ်ဆင်မည့်စက်ပစ္စည်းများမှထွက်ရှိလာမည့် အခိုးအငွေ့များ၊ အနံ့အသက်များ၊ ဆူညံသံများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းခြင်း စသည့်ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ အာရှအထွေထွေထရန်စဖော်မာကုမ္ပဏီလီမိတက်မှ နိုင်ငံတကာအဆင့်မီထရန်စဖော်မာအမျိုးမျိုးထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ အောက်ပါအတိုင်းသဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကိုပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအားအသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့်လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု( Corporate Social Responsibility - CSR)အတွက်အသားတင်အမြတ်ငွေ၏ (၂%)အား အသုံးပြုခြင်း အပါအဝင်ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမရှိစေရေး (သို့မဟုတ်)ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးတို့အတွက် **ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း**( Initial Environmental Examination - IEE ) ကိုဆောင်ရွက်ပြီး

ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ အစီရင်ခံတင်ပြရန်နှင့်ဝန်ကြီးဌာနမှလိုအပ်ပါက **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း** ( Environmental Impact Assessment – EIA ) ကိုဆက်လက်ဆောင်ရွက်ရန်။

( ဂ ) အထက်ပါလေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ်စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည်စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေရေးဆောင်ရွက်မည့်လုပ်ငန်းများ အတွက်သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်** ( Environmental Management Plan – EMP )အား ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့်စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့်အညီလိုက်နာဆောင်ရွက်ရန်။

( င ) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူများ၏ဆန္ဒနှင့်သဘောထားများရယူဆောင်ရွက်ရန်။

(ဇော်မိုး)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## စက်မှုဝန်ကြီးဌာန

NPT. 1630
5.5.16

စာအမှတ်၊ ၂၁-စမ(၂)၂၀၁၆-၂၀၁၇(၂၀၆)
ရက် စွဲ၊ ၂၀၁၆ ခုနှစ်၊ မေလ ၄ ရက်

သို့

M-970
6/5/16

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး**

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၆.၄.၂၀၁၆ ရက်စွဲပါ စာအမှတ်၊ ရက-၃/ မ-၁၂၃၆ / ၂၀၁၆ (၅၅၆-ခ)

၁။ အာရှအထွေထွေ ထရန်စဖော်မာကုမ္ပဏီလီမိတက်မှ နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ရွှေသံလွင်စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်(၁၄)၊ မြေကွက်အမှတ်(၁၊ ၂၊ ၃၊ ၄၊ ၃၃၊ ၃၄၊ ၃၅)တွင် နိုင်ငံတကာအဆင့်မီ ထရန်စဖော်မာအမျိုးမျိုး ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) နိုင်ငံသားရင်းနှီးမြှုပ်နှံပြီး နိုင်ငံတကာအဆင့်မီ ထရန်စဖော်မာအမျိုးမျိုး ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပါသည်။

(ခ) မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန်နှင့် ယင်းအစီအမံအတွက် အမြတ်ငွေ၏ ၁% သုံးစွဲရန် လိုအပ်ပါသည်။

(ဂ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) လျှပ်စစ်ဥပဒေ၊ လျှပ်စစ်ဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများနှင့်အညီ ပြင်တွင်းဖြစ်လျှပ်စစ်ပစ္စည်းထုတ်လုပ်မှု လျှပ်စစ်အန္တရာယ်ကင်းရှင်းကြောင်း လက်မှတ်ရရှိရန် လိုအပ်ပါသည်။

(င) နှစ်စဉ်ပြည်ပမှ ကုန်ကြမ်းပစ္စည်း(၅၃)မျိုးတင်သွင်းထုတ်လုပ်မည်ဖြစ်ပြီး ကုန်ကြမ်းသုံးစွဲမှုစံနှုန်းများ ဆီလျော်မှု ရှိပါသည်။

(စ) ထုတ်ကုန်ပစ္စည်းများ၏ ရောင်းဈေးနှုန်းများ ဆီလျော်မှု ရှိပါသည်။

(ဆ) စက်အင်အား၊ လူအင်အား အချိုးအစား ညီမျှမှု ရှိပါသည်။

၃။ သို့ပါ၍ အာရှအထွေထွေ ထရန်စဖော်မာကုမ္ပဏီလီမိတက်မှ နိုင်ငံတကာအဆင့်မီ ထရန်စဖော်မာအမျိုးမျိုး ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ရာတွင် အထက်ပါလိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်ပြီး နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့်ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၄.၅.၁၆

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(လှမိုး၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန

စာအမှတ်၊ လျှပ်စစ်-၂/(သဘောထား)(၁၀၈)/၂၀၁၆

ရက်စွဲ ၊ ၂၀၁၆ ခုနှစ်၊ ဧပြီလ ၂၂ ရက်

သို့

m-726 2914

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၆-၄-၂၀၁၆)ရက်စွဲပါ စာအမှတ်၊ ရက-၃/ မ-၁၂၃၆/ ၂၀၁၆ (၅၅၆-၈)

၁။ အာရှအထွေထွေ ထရန်စဖော်မာကုမ္ပဏီလီမိတက်မှ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ရွှေသံလွင်စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်-၁၄၊ မြေကွက်အမှတ်-၁၊ ၂၊ ၃၊ ၄၊ ၃၃၊ ၃၄၊ ၃၅ နှင့် ယင်းမြေပေါ်ရှိ အဆောက်အဦများအား ငှားရမ်း၍ နိုင်ငံတကာအဆင့်မီ ထရန်စဖော်မာအမျိုးမျိုး ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းချက်ပါစာဖြင့် သဘောထားမှတ်ချက် တောင်းခံလာပါသည်။

၂။ ပူးတွဲပါ လုပ်ငန်းအဆိုပြုလွှာအရ အာရှအထွေထွေ ထရန်စဖော်မာကုမ္ပဏီလီမိတက် (AGT) သည် ဂျပန်နိုင်ငံ၊ Mitsubishi Electric Corporation (MELCO) နှင့် ချုပ်ဆိုထားသည့် Technical License Agreement တွင် နည်းပညာပိုင်းဆိုင်ရာ စမ်းသပ်မှုများဖြစ်သော Type Test ၊ Routine Test များ စမ်းသပ်စစ်ဆေးခြင်း၊ IEC Standard ၊ ပစ္စည်းဝယ်ယူသူ၏ လိုအပ်ချက်များနှင့်အညီ ဆောင်ရွက်ရန်ဖြစ်ကြောင်း၊ အဆိုပါ စမ်းသပ်စစ်ဆေးမှုများ၊ နည်းပညာဆိုင်ရာ လိုအပ်ချက်များနှင့် ကိုက်ညီမှု မရှိပါက ပစ္စည်းများ ရောင်းချခွင့် မရှိကြောင်း ဖော်ပြထားခြင်း၊ လုပ်ငန်းအဆိုပြုသူ အာရှအထွေထွေ ထရန်စဖော်မာကုမ္ပဏီလီမိတက်(AGT) အနေဖြင့် ISO 9001:2008 ၊ ISO 14001:2004 Certificate များ ရရှိထားခြင်းဖြစ်၍ နည်းပညာနှင့် အရည်အသွေးပိုင်းဆိုင်ရာ ဆောင်ရွက်မည့် အစီအမံများကို စိစစ်တွေ့ရှိရပါသည်။

၃။ သို့ဖြစ်ပါ၍ အာရှအထွေထွေ ထရန်စဖော်မာကုမ္ပဏီလီမိတက် (AGT) အနေဖြင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ လုပ်ငန်းဆောင်ရွက်မည်ဆိုပါက လျှပ်စစ်နှင့်

စွမ်းအင်ဝန်ကြီးဌာနအနေဖြင့် သဘောထားမှတ်ချက်ပေးရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

21/4/16

ပြည်ထောင်စုဝန်ကြီး ( )

(ထိန်လွင်၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို

ရုံးလက်ခံ/ မျှောစာတွဲ